(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကို ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက် အလက်များနှင့်အညီ အစီရင်ခံရေးသားတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို လည်းဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၇၄၉)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅.၁.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃ / န-၁၄၃၃ / ၂၀၁၇ (၂၈)

၁။ Tian Cheng Pen Jiao Mian (Mynamar) Co.,Ltd မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း (၄)၊ မြေကွက်အမှတ်(၃၄)တွင် အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ဓါတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းသုံးစွဲမှု တင်ပြထားခြင်းမရှိပါသဖြင့် ကုန်ကြမ်းလိုအပ်ချက်အား စိစစ်နိုင်ခြင်းမရှိပါ။

(စ) ကုန်ထုတ်လုပ်မှုတင်ပြရာတွင် Quilting Machine အရေအတွက် အနည်းငယ်လျှော့သင့်ပြီး၊ ဝန်ထမ်းအင်အား ဖြည့်တင်းရန်လိုအပ်ပါသည်။

၃။ သို့ပါ၍ Tian Cheng Pen Jiao Mian (Mynamar) Co.,Ltd အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
- ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ စာအမှတ်၊ မရက-၃/ န-၁၄၃၃/၂၀၁၇( ၁၃၇ )
ဖက်(စ်)- ၀၁-၆၅၈၁၄၁ ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်

အကြောင်းအရာ။ **Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. သို့ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၂၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၆-၂၀၁၇(၂၇၄၉)

၁။ တရုတ်နိုင်ငံသား Mr. Lan, Xiaoyong မှ ၉၄.၉၃ % ၊ Mr. Dai, Shisheng မှ ၀.၀၆ % နှင့် မြန်မာနိုင်ငံသား U Pavan မှ ၅.၀၁ % အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၁.၀၀၁ ဧက (၄,၀၅၀.၉၁ စတုရန်းမီတာ) အား ငှားရမ်း၍ အခွေး ထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်း ချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် စက်မှုဝန်ကြီးဌာနမှ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြား ထားပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန် လိုအပ်ပါကြောင်း။

(ဂ) ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

(ဃ) ဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း။

(င) ကုန်ကြမ်းသုံးစွဲမှု တင်ပြထားခြင်းမရှိပါသဖြင့် ကုန်ကြမ်းလိုအပ်ချက်အား စိစစ်နိုင်ခြင်းမရှိပါကြောင်း။

(စ) ကုန်ထုတ်လုပ်မှုတင်ပြရာတွင် Quilting Machine အရေအတွက် အနည်းငယ်လျှော့သင့်ပြီး၊ ဝန်ထမ်းအင်အား ဖြည့်တင်းရန် လိုအပ်ပါကြောင်း။

၂။ သို့ဖြစ်ပါ၍ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို သိရှိနိုင်ပါရန်နှင့် ပြင်ဆင်၍ ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

**Tian Cheng Pen Jiao Mian (Myanmar) Co., Ltd.**
**မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊**
**လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး**
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၀၁၂၈ | စာအမှတ်၊ မရက- ၃/န-၁၄၃၃/၂၀၁၇(၂၅၉-၈)

ဖက်(စ်)- ၀၁-၆၅၈၀၁၄၁ | ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

အကြောင်းအရာ။ **Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. သို့ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ၏ သဘောထားမှတ်ချက် ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ရန်ကုန်မြို့၏ (၁၆-၂-၂၀၁၇) ရက်စွဲပါ စာအမှတ်၊၀၀၁/MIC(OSS)/ ၀၁(၂၅/၁၇)

၁။ တရုတ်နိုင်ငံသား Mr. Lan, Xiaoyong မှ ၉၄.၉၃ % ၊ Mr. Dai, Shisheng မှ ၀.၀၆ % နှင့် မြန်မာနိုင်ငံသား U Pavan မှ ၅.၀၁ % အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၁.၀၀၁ ဧက (၄,၀၅၀.၉၁ စတုရန်းမီတာ) အား ငှားရမ်း၍ အခွေးထည်၊ ဂျာကင်များချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ ရည်ညွှန်းပါစာဖြင့် အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့ အပါအဝင်ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environmental Examination-IEE) ကို ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှု

ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြ ဆောင်ရွက်ရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့်လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကိုလည်းဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ ၊ အစီရင်ခံစာ များရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ် နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက် များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်း များ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက် ရန်။

၂။ သို့ဖြစ်ပါ၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်ကို သိရှိလိုက်နာ ဆောင်ရွက်နိုင်ပါ ရန်နှင့် **ကနဦးဆန်းစစ်ခြင်း(Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** အစီရင်ခံစာ တို့ကို သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပေးပို့ရန် အကြောင်းကြား ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

Tian Cheng Pen Jiao Mian (Myanmar) Co., Ltd.
မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊
လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး
မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း- ၀၁-၆၅၈၁၂၈
ဖက်(စ်) - ၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက- ၃/န-၁၄၃၃/၂၀၁၇ (၁၉၅ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၃ ရက်

## အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်

၁။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. မှ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်တင်ပြလာပါသည်။

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| က | စက်မှုဝန်ကြီးဌာန | | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |
| ခ | အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |

၂။ ၎င်းပြင်ဆင်ချက်ကို အထက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၈
📠 ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/န-၁၄၃၃/၂၀၁၇( ၂၉ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၅ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. ၏ ၁၄-၁၂-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်နိုင်ငံသား Mr. Lan, Xiaoyong မှ ၉၄.၉၃ %၊ Mr. Dai, Shisheng မှ ၀.၀၆ % နှင့် မြန်မာနိုင်ငံသား U Pavan မှ ၅.၀၁ % အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၁.၀၀၁ ဧက (၄,၀၅၀.၉၁ စတုရန်းမီတာ) အား ငှားရမ်း၍ အနွေးထည်၊ ဂျာကင် များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၃) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြု ချက်ကို စိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို ဆောလျင်စွာ စိစစ်ပေးရမည် ဖြစ်ပါသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အောက်ပါသဘောထားမှတ်ချက်အား ဤစာလက်ခံရရှိသည့် နေ့မှ **ခုနစ်ရက်အတွင်း** ဝန်ကြီးချုပ် (သို့မဟုတ်) ဝန်ကြီးချုပ်က တာဝန်ပေးအပ်သူ တစ်ဦးဦးက လက်မှတ်ရေးထိုးပြန်ကြားပေးပါရန် အဆိုပြုချက် တစ်စုံအား ပူးတွဲ ပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံ အပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. နှင့် ပတ်သက်၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာဒေါ်သန့်မြတ်ဝင်း (တယ်လီဖုန်း- ၀၁-၉၀၁၀၂၀၃၊၉၀၁၀၂၀၄) ဖြစ်ပါ ကြောင်း အသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ရန်ကုန်တိုင်းဦးစီးမှူး၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာန
Tian Cheng Pen Jiao Mian (Myanmar) Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/န-၁၄၃၃/၂၀၁၇ ( ၂၈ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၅ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. ၏ ၁၄-၁၂-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်နိုင်ငံသား Mr. Lan, Xiaoyong မှ ၉၄.၉၃ %၊ Mr. Dai, Shisheng မှ ၀.၀၆ % နှင့် မြန်မာနိုင်ငံသား U Pavan မှ ၅.၀၁ % အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည် ထောင်ကာ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၁.၀၀၁ ဧက (၄,၀၅၀.၉၁ စတုရန်းမီတာ) အား ငှားရမ်း၍ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ အခန်း(၆) အပိုဒ်(၄၆) ပါပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ခုနစ်ရက်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအားပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. နှင့် ပတ်သက်၍ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဒေါ်သန့်မြတ်ဝင်း (တယ်လီဖုန်း- ၀၁-၉၀၁၀၂၀၃၊၉၀၁၀၂၀၄) ဖြစ်ပါကြောင်း အသိပေးအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အဆိုပြုချက်စိစစ်ရေးအဖွဲ့
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/န-၁၄၃၃/၂၀၁၇ ( ၁၂-၈ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၃ ရက်

သို့

**အဖွဲ့ခေါင်းဆောင်**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**
**One Stop Service အဖွဲ့**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. ၏၁၄-၁၂-၂၀၁၆ ရက်စွဲပါစာ

၁။ တရုတ်နိုင်ငံသား Mr. Lan, Xiaoyong မှ ၉၄.၉၃ % ၊ Mr. Dai, Shisheng မှ ၀.၀၆ % နှင့် မြန်မာနိုင်ငံသား U Pavan မှ ၅.၀၁ % အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည် ထောင်ကာ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၁.၀၀၁ ဧက (၄,၀၅၀.၉၁ စတုရန်းမီတာ) အား ငှားရမ်း၍ အခွေး ထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်း ချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအခန်း(၆) အပိုဒ် (၄၃)နှင့် (၄၅)ပါ ပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုချက် တစ်စုံအား ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. နှင့် ပတ်သက်၍ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်မှာ ဒေါ်သန့်မြတ်ဝင်း (တယ်လီဖုန်း- ၀၁-၉၀၁၀၂၀၃၊၉၀၁၀၂၀၄) ဖြစ်ပါကြောင်း အသိ ပေးအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အဆိုပြုချက်စိစစ်ရေးအဖွဲ့

၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၉ ရက်နေ့ နံနက် ၉း၀၀နာရီတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သည့်အဖွဲ့ဝင်များ/ ကိုယ်စားတက်ရောက်သူများ**

ဦးခင်မောင်သွင် — အဖွဲ့ဝင်
ဒုတိယအထွေထွေမန်နေဂျာ(အင်ဂျင်နီယာ)
ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

ဦးတင်ဦး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးတက်ထွန်းအောင် — ကိုယ်စား
ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးမျိုးသန့် — ကိုယ်စား
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးအောင်အောင်လေး — ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ဦးမြင့်ခိုင် — ကိုယ်စား
[illegible]
[illegible]
[illegible]

ဖြစ်ကြောင်း၊ စက်ကိရိယာအစိတ်အပိုင်းများ တပ်ဆင်ခြင်းလုပ်ငန်းကို တစ်ဆင့်ပြီးတစ်ဆင့် မြှင့်တင်ဆောင်ရွက်သွားမည်ဖြစ်ပြီး တန်ဖိုးမြှင့်ထုတ်ကုန်များကို ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံတွင် တပ်ဆင်ထုတ်လုပ်ရခြင်းမှာ မြန်မာနိုင်ငံ၏တည်နေရာအနေအထားအရ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ အိန္ဒိယနိုင်ငံနှင့် အာဆီယံနိုင်ငံများသို့ တစ်ဆင့်ပြန်လည် ရောင်းချရန် လွယ်ကူကြောင်း၊ မြန်မာနိုင်ငံအစိုးရအနေဖြင့် ပံ့ပိုးကူညီပေးစေလိုကြောင်း၊ Made in Myanmar ဟူသောတံဆိပ်ကို ကမ္ဘာတစ်ဝန်းသို့ တင်ပို့သွားမည်ဖြစ်ကြောင်း၊ မိမိတို့စက်ရုံသည် တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် တည်ရှိပြီး တရုတ်ပြည်သူ့သမ္မတနိုင်ငံနှင့် ထိုင်းနိုင်ငံတို့မှစက်ကိရိယာ ပစ္စည်းအစိတ်အပိုင်းများကို တင်သွင်းမည်ဖြစ်ကြောင်း၊ မိမိတို့ထုတ်လုပ်မည့် မော်တော်ဆိုင်ကယ်သည် တံဆိပ်အသစ်နှင့် ထုတ်လုပ်မည်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံတွင်သာ ထုတ်လုပ်ရောင်းချမည်ဖြစ်ကြောင်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ CP တံဆိပ် ဖြင့်ပစ္စည်းများကို တင်သွင်းလာပြီး တံဆိပ်အသစ်ကို မြန်မာပြည်တွင် မှတ်ပုံတင်မည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CP Motor Myanmar Co., Ltd. တည်ထောင်၍ CKD စနစ်ဖြင့် မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု ချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) Business Plan အား အသေးစိတ်ရေးဆွဲတင်ပြပေးရန်။

(ခ) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြပေးရန်။

(ဂ) ပြည်ပမှတင်သွင်းမည့်ပစ္စည်းစာရင်းအားစိစစ်တင်ပြပေးရန်။

(ဃ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။

၈။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က ကုမ္ပဏီအနေဖြင့် လုပ်ငန်းအတွေ့အကြုံရှိ-မရှိသိလိုကြောင်း၊ လုပ်ငန်းအတွက် ကုန်ကြမ်းပစ္စည်းကိုမည်သည့်နိုင်ငံမှတင်သွင်းပြီး ကုန်ချောများအတွက် ဈေးကွက်ရှိ-မရှိကို သိလိုကြောင်း၊ လုပ်ငန်းအတွက် စံနှုန်းသတ်မှတ်ချက်ကိုလည်းသိရှိလိုကြောင်း၊ ပြည်တွင်းတွင် လုပ်ငန်းတူရှိ-မရှိသိလိုကြောင်း၊ အနွေးထည်ချုပ်ရာတွင် မည်သည့်နေရာထည့်သုံးသည်ကို သိလိုကြောင်း၊ CMP လုပ်ငန်းများကြောင်း၊ FOB လုပ်ငန်းနည်းကြောင်း၊ ငှားရမ်းဆောင်ရွက်ရာတွင် အဆောက်အဦပါ-မပါသိလိုကြောင်း၊ ပြည်တွင်းဝန်ထမ်း ၆၅ဦး၊ ပြည်ပဝန်ထမ်း ၁၂ဦး ဖြစ်နေသောကြောင့် ကျွမ်းကျင်မှုရှိလာလျှင် ပြည်ပဝန်ထမ်းလျှော့၍ရကြောင်း၊ စံနှုန်းသတ်မှတ်ချက်ကို တင်ပြပေးရန်လိုကြောင်း၊ အဆိုပြုချက်တွင် စာလုံးပေါင်းမှားနေခြင်းများ အပါအဝင် လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ နှင့် ဆက်သွယ်ဆောင်ရွက်ပါရန် ဆွေးနွေးပြောကြားပါသည်။

အဖွဲ့ဝင်(၃)[illegible] အထွေထွေမန်နေဂျာ ဦးအောင်နိုင်ဦး၏ အဆိုပြုချက်နှင့်ပတ်သက်၍ စက်ပစ္စည်းတင်သွင်းသည့်အခါ ပစ္စည်း ၃ မျိုး ပါဝင်၍ Set ဖော်ပြပေးရန်လိုကြောင်း၊

Set ဆိုသည်မှာ Motor လည်း ပါနိုင်ကြောင်း၊ Set ခေါင်းစဉ်အောက်တွင် အသေးစိတ် ဖော်ပြချက်လိုကြောင်း၊ ယခုအဆိုပြုလုပ်ငန်းသည် ဝါဂွမ်း(Cotton)များနှင့် ထုတ်လုပ်ခြင်း မဟုတ်ဘဲ Polyester ဓာတုနည်းပညာဖြင့်ဆောင်ရွက်ထားသည့် ချည်မျှင်များဖြစ်ကြောင်း၊ ဝါဂွမ်းကဲ့သို့သော ဓာတုချည်မျှင်ကို အဆင့်ဆင့်ဖြစ်အောင်ကြိတ်ပြီး အမျှင်ပြန်လုပ်ခြင်းဖြစ်ကြောင်း၊ ဝါချည်ယက်လုပ်သည့် ပုံစံအတိုင်း အဆင့်ဆင့်ပြုလုပ်ခြင်းဖြစ်ကြောင်း၊ လိုချင်သည့်ပုံစံအထူအပါးရရှိအောင် ကော်ရည်ဖျန်း၍ပြုလုပ်ခြင်းဖြစ်ကြောင်း၊ နောက်ဆက်တွဲ-၅ တွင် ဖော်ပြထားပါကြောင်း၊ အဓိကအနေဖြင့် ထုထည်ထူချင်လျှင် ကော်များများအသုံးပြုရမည်ဖြစ်ကြောင်း၊ Synthetic အတုပစ္စည်းဖြစ်ကြောင်း၊ အစိုးရလုပ်ငန်း၊ ပုဂ္ဂလိကလုပ်ငန်းတို့တွင် ယခုကဲ့သို့လုပ်ငန်းမရှိသေးကြောင်း၊ အသုံးပြုသည့်နေရာများမှာ ဂျာကင် အင်္ကျီအတွင်း ညှပ်၍သုံးခြင်းဖြစ်ကြောင်း၊ ထွက်လာသည့် ဖြတ်စများကို ခေါင်းအုံး၊ ဖက်လုံးများတွင် ထည့်၍အသုံးပြုကြောင်း၊ မိန်းမဝတ်အင်္ကျီများတွင် ဖော့၊ လိုင်နာအဖြစ် အသုံးပြုကြောင်း၊ နည်းပညာကိုက်ညီမှုရှိကြောင်း၊ ကုန်ကြမ်းပစ္စည်းဖော်ပြချက်တွင် ပုံများမပါ၍ တင်ပြပေးရန်လိုကြောင်း၊ ကုန်ကျစရိတ်နှင့် စံနှုန်းဖော်ပြချက်မပါ၍ ဖော်ပြပေးရန်လိုကြောင်း၊ ကုန်ကြမ်းထုတ်ပိုးမှုမှာ ဝါဂွမ်းထုတ်ပိုးမှုနှင့် တူကြောင်း၊ မီးလောင်လွယ်သည့်ပစ္စည်းဖြစ်ကြောင်း၊ အမှုန်များအပြင်သို့မထွက်ကြောင်း၊ အပူအောင်းသည့်သဘောရှိကြောင်း၊ စက်တစ်လုံးထဲကြိတ်ရာမှရရှိနိုင်ကြောင်း၊ ကော်ရည်ဖျန်း၍ ထုတ်လုပ်မှုကို ချိန်ညှိပြီး Order ရရှိသည့်အတိုင်းဖြစ်အောင်ထုတ်ပိုးပေးကြောင်း၊ အလိပ်အတိုင်းထုတ်လုပ်ကြောင်း၊ ပြည်တွင်းတွင် ၉၀ % ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၁၀% တင်ပို့မည်ဖြစ်ကြောင်း၊ အင်္ကျီချုပ်ခြင်း၊ ဂွမ်းကပ်ပြုလုပ်ခြင်းများတွင် အသုံးပြုကြောင်း၊ စက်မှုဝန်ကြီးဌာန၏ အမြဲတမ်းအတွင်းဝန်မှ အင်းစိန်မြို့နယ်တွင် အထည်နည်းပညာ ဖွံ့ဖြိုးတိုးတက်ရေးဌာန ဖွင့်လှစ်၍ ဒေါ်မြမြခိုင်မှ ဦးဆောင်၍ ဆောင်ရွက်နေပြီဖြစ်ကြောင်း၊ ကော်မရှင်အနေဖြင့် အထည်ချုပ်လုပ်ငန်းလာရောက် ရင်းနှီးမြှုပ်နှံသူများကို အထည်နည်းပညာဖွံ့ဖြိုးတိုးတက်ရေးဌာနနှင့် ဆက်သွယ်ပြီး ပြည်ပသို့များများပြန်ပို့နိုင်ရန် စိစစ်ပေးစေချင်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ်(၁) ဦးဆန်းမြင့်က ဥပဒေအသစ်တွင် CMP လုပ်ငန်းမရှိတော့ကြောင်း၊ ပြည်ပသို့တင်ပို့လျှင်အခွန်ကင်းလွတ်ကြောင်း၊ ပြည်တွင်းရောင်းချလျှင် အခွန်ဆောင်ရမည်ဖြစ်ကြောင်း၊ ကုန်ကြမ်းတင်သွင်းမှုတွင် ကင်းလွတ်ခွင့် ၃ နှစ် မပေးတော့ကြောင်း၊ ကုမ္ပဏီအနေဖြင့် CSR ၂% အတွက် မည်သို့စီစဉ်ထားသည်ကိုသိလိုကြောင်း၊ အမှန်တကယ်အသုံးပြုရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊ စက်မှုဇုန်တွင် မြေငှားရမ်းအသုံးပြုသည်ကိုတွေ့ရကြောင်း၊ မြေဧရိယာ ၁.၀၀၁ ဧကဖြစ်ပြီး နောက်ဆုံးအမည်ပြောင်းထားသည့် ဦးမောင်ဝင်းထံမှ ငှားရမ်းအသုံးပြုမည်ကို တွေ့ရကြောင်း၊ ငှားရမ်းမှုတွင် အဆောက်အဦပါဝင်ခြင်းရှိ-မရှိသိလိုကြောင်း၊ လက်ရှိအဆောက်အဦတွင် မည်သည့်လုပ်ငန်းလုပ်နေသည်ကိုသိလိုကြောင်း၊ မြေဂရန်ရပြီးဖြစ်သည်ကိုတွေ့ရကြောင်း၊ မြေကွက်အလွတ်ကျန်-မကျန် သိလိုကြောင်း၊ မြေငှားစာချုပ်နောက်ဆုံးတွင် မြေပုံပေါ်၌ အဆောက်အဦအမျိုးအစား၊ အကျယ်အဝန်းကို ဖော်ပြ၍ မြေငှားစာချုပ်ချုပ်လျှင် တွဲပေးရန်လိုကြောင်း၊ လက်ရှိ

တွင် အဆောက်အဦရှိလျှင် ဖော်ပြပေးရန်လိုကြောင်း၊ မြေကွက်အမှတ်-၃၅ နှင့် ၃၆ တွင် မည်သည့် လုပ်ငန်းများရှိသည်ကိုသိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း ဒုတိယအထွေထွေမန်နေဂျာ (အင်ဂျင်နီယာ) ဦးခင်မောင်သွင်က လျှပ်စစ်ဓာတ်အားသုံးစွဲမှုမှာ တစ်နှစ်လျှင် ၈၅၀၀၀ ယူနစ်အသုံးပြုမည်ကိုတွေ့ရကြောင်း၊ ငှားရမ်းစဉ်က လျှပ်စစ်မီးပါဝင်ခြင်းရှိ-မရှိသိလိုကြောင်း၊ ထရန်စဖော်မာ၏ Capacity ကို သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတင်ဦးက အဆောက်အဦတွင် အတွင်းလျှပ်စစ်မီးသွယ်တန်းထားခြင်းရှိ-မရှိ၊ အတွင်းလျှပ်စစ်သွယ်တန်းခြင်းပြီးပါက Electrical Inspection ဌာန၏ စစ်ဆေးမှုခံယူပြီးမှ အသုံးပြုရမည်ဖြစ်ကြောင်း၊ ဘွိုင်လာ 1 Set ဟု ဖော်ပြထား၍ Capacity နှင့် သုံးစွဲမည့်လောင်စာကိုသိလိုကြောင်း၊ ဂျင်နရေတာ 700KVA နှစ်လုံး ပြည်ပမှ ဝယ်မည်ဟု ဖော်ပြထား၍ ပြည်တွင်းမှလည်းဝယ်ယူ၍ရကြောင်း၊ မီးစက်တပ်ဆင်ပြီးပါက သက်ဆိုင်ရာဌာနမှ စစ်ဆေးပြီး အန္တရာယ် ကင်းရှင်းကြောင်းလက်မှတ်ရရှိပြီးမှသာ အသုံးပြုရမည်ဖြစ်ကြောင်း၊ ဘွိုင်လာ သုံးစွဲမည်ဆိုပါက ဘွိုင်လာစစ်ဆေးရေးဌာန၏ စစ်ဆေးမှုခံယူပြီးမှ အသုံးပြုရမည်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိပြီး စက်ရုံစတင်လည်ပတ်ပါက ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်လျှောက်ထားရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမျိုးသန့်က ပြည်ပမှ တင်သွင်းမည့်ပစ္စည်းများ အား Unit Code နှင့်စစ်ရသောကြောင့် လိုင်စင်လျှောက်သည့်အခါ၂၀၁၂ ခုနှစ် HS Code များ မှန်ကန်ရန်လိုကြောင်း၊ ဈေးနှုန်း၊ တန်ဖိုး၊ အရေအတွက် သေချာစွာဖော်ပြပေးရန်လိုကြောင်း၊ တင်သွင်းမည့် ပစ္စည်းသည် Set သို့မဟုတ် Unit ဖြစ်သည်ကိုသေချာစွာဖော်ပြရန်လိုကြောင်း၊ Unit ဖြစ်ပါက လိုင်စင်လျှောက်သည့်အခါ Specification တိကျစွာဖော်ပြပေးရန်နှင့် လိုအပ်ပါက အချို့စက်ပစ္စည်းများ၏ Catalogue ပူးတွဲတင်ပြပေးရန်လိုကြောင်း၊ မော်တော်ယာဉ် တင်သွင်းမှုအတွက် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ တင်သွင်းရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတက်ထွန်းအောင်က JV Agreementနှင့် Land Lease Agreement တို့တွင် တံဆိပ်ခေါင်းခွန်ကပ်ရန်လိုကြောင်း၊မြေငှားစာချုပ်တွင် တစ်နှစ် ငှားရမ်းခရငွေ၏ပျမ်းမျှ ၂% ကို တံဆိပ်ခေါင်းခွန်ကပ် ရမည်ဖြစ်ကြောင်း၊ မြေပိုင်ရှင်အနေဖြင့် ရငွေပေါ်တွင် ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန် စည်းကြပ်ခံရမည်ဖြစ်ပြီး မြေငှားရမ်းသူမှ ကုန်သွယ်လုပ်ငန်းခွန် စည်းကြပ်ခံရမည်ဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့် JV Agreement နှင့်ဆောင်ရွက်မည်ဖြစ်သောကြောင့် လုပ်ငန်းမစတင်မီ သက်ဆိုင်ရာအလယ်အလတ် အခွန်ထမ်းများဆိုင်ရာအခွန်ရုံး အမှတ်-၃နှင့် ဆက်သွယ်ဆောင်ရွက်ပါရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ကြည်က လုပ်ငန်း လည်ပတ်ရန် ပြည်ပဝန်ထမ်းခန့်ထားခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုသက်တမ်း ကာလနှင့်အညီ ခွင့်ပြုပေးနေပြီး နိုင်ငံခြားသား အလုပ်သမားမှတ်ပုံတင်ကတ် ထုတ်ပေးနေပါကြောင်း၊ ပြည်တွင်းဝန်ထမ်းခန့်ထားခြင်းအား ဥပဒေအရ သက်ဆိုင်ရာမြို့နယ် အလုပ်အကိုင်နှင့် အလုပ်သမား

ရှာဖွေရေးရုံးမှ ခေါ်ယူခန့်ထားခွင့်ရှိ၍ ကုမ္ပဏီမှ ဆက်သွယ်ဆောင်ရွက်ရန်လိုကြောင်း၊ ဝန်ထမ်းခန့်ထားပြီးပါက သတ်မှတ်ကာလအတွင်း အလုပ်ရှင်နှင့်အလုပ်သမား သဘောတူစာချုပ် ချုပ်ဆိုရန်လိုကြောင်း၊ လူမှုဖူလုံရေးဥပဒေနှင့်အညီ လူမှုဖူလုံထည့်ဝင်ကြေးပေးဆောင်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်ဝင်းဝင်းစန်းက ယာဉ်/ယန္တရားတင်သွင်းမည်ဟု ဖော်ပြထား၍ လူစီးယာဉ်သွင်းမည်ဆိုပါက ၂၀၀၇-၂၀၁၇ ခုနှစ် Model ဖြစ်ရန်လိုကြောင်း၊ လိုင်စင် လျှောက်သည့်အခါ Unit၊ Brand၊ Capacityတို့ကို Specification ပြည့်စုံစွာ ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်အောင်လေးက စက်ရုံတွင် Waste Water Treatment အစီအစဉ်ရှိ-မရှိသိလိုကြောင်း၊ ချည်မျှင်တုများ ပြုလုပ်သည့် လုပ်ငန်းဖြစ်သည့်အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) အစီရင်ခံစာ ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ရင်းနှီးမြှုပ်နှံမှု အမျိုးအစားကို" Manufacturing and sales of synthetic resin for clothing such as jacket and warm coat "ဟု ပြင်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူက တရုတ်နိုင်ငံတွင်လုပ်ငန်းအတွေ့အကြုံ ၅ နှစ် ရှိကြောင်း၊ ကုန်ကြမ်းများကို တရုတ် နိုင်ငံမှတင်သွင်းမည်ဖြစ်ပြီး ကုန်ချောကိုလည်း တရုတ်နိုင်ငံသို့တင်ပို့မည်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံတွင် ယခုလုပ်ငန်းမျိုးမရှိကြောင်း၊ တစ်ထပ်အဆောက်အဦတစ်လုံးရှိပြီး ရုံးခန်းပါရှိကြောင်း၊ မူလက ဂိုဒေါင် အဖြစ်အသုံးပြုကြောင်း၊ မြေကွက်လွတ်မကျန်တော့ကြောင်း၊ နောက်ဆက်တွဲ-၅(က) တွင် မြေပုံဖော်ပြ ထားပါကြောင်း၊ ဘေးပတ်ဝန်းကျင်တွင် ၆ ထပ် အဆောက်အဦရှိပြီး မည်သည့် လုပ်ငန်း လုပ်သည်ကိုမသိကြောင်း၊ ငှားရမ်းသည့်အထဲတွင် လျှပ်စစ်မီးပါကြောင်း၊ 315kVA ထရန်စဖော်မာကို အသုံးပြုမည်ဖြစ်ကြောင်း၊ အတွင်းလျှပ်စစ်မီးသွယ်တန်းထားပြီးဖြစ်ကြောင်း၊ ကျောက်မီးသွေးလောင်စာကို အသုံးပြုမည့် တစ်တန်ဘွိုင်လာဖြစ်ကြောင်း၊ ဂျင်နရေတာကို ပြည်ပမှ ဝယ်မည်ဟုတင်ပြထားကြောင်း၊ ရေအသုံးပြုမှုမရှိ၍ Waste Water Treatment အစီအစဉ် မရှိကြောင်း၊ ရင်းနှီးမြှုပ်နှံမှုအမျိုးအစား ကိုပြင်ပေးမည်ဖြစ်ကြောင်း၊ CSR ၂% ကို မိမိတို့ဝန်ထမ်းများကို ကျွမ်းကျင်မှုရှိအောင် သင်တန်းပေးရာ တွင်အသုံးပြုမည်ဖြစ်ကြောင်း၊ ကျွမ်းကျင်လာပါက ဆုကြေး အစီအစဉ်ပြုလုပ်ပေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ မိသားစုကျန်းမာရေးအတွက်လည်း အသုံးပြုမည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည် ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် အဆိုပြုချက် တင်ပြလာခြင်းကိုစုအားအောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြပေးရန်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ဆိုင်ကယ်နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) လုပ်ငန်းအမျိုးအစားအား ပြင်ဆင်တင်ပြပေးရန်။<br>(၂) အခွန်ပေးဆောင်ထားသည့်အထောက်အထားတင်ပြရန်။<br>(၃) မော်တော်ဆိုင်ကယ်တစ်စီးတွင် နိုင်ငံခြားမှတင်သွင်းသောအစိတ်အပိုင်း၏ ရာခိုင်နှုန်းနှင့် ပြည်တွင်းတွင် ထုတ်လုပ်သောအစိတ်အပိုင်း၏ရာခိုင်နှုန်းတို့အား ရှင်းလင်းစွာ ဖော်ပြပေး ရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | Aung Kan Bo Motor Cycle Industrial Co., Ltd. |
| (င) ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CP Motor Myanmar Co., Ltd. တည်ထောင်၍ CKD စနစ်ဖြင့် မော်တော်ဆိုင်ကယ် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု ချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) Business Plan အား အသေးစိတ်ရေးဆွဲတင်ပြပေးရန်။<br>(၂) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြပေးရန်။<br>(၃) ပြည်ပမှတင်သွင်းမည့်ပစ္စည်းစာရင်းအားစိစစ်တင်ပြပေးရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>CP Motor Myanmar Co., Ltd. |
| (စ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြပေးရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. |
| (ဆ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် City- Glass Technology Co., Ltd. တည်ထောင်ကာ မှန်နှင့်အလူမီနီယံ နည်းပညာဝန်ဆောင်မှုနှင့် တပ်ဆင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းစာရင်းအား ပြန်လည်စိစစ်တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>City- Glass Technology Co., Ltd. |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

Myanmar Investment Commission

တယ်လီဖုန်း- ၀၁-၆၅၈၀၂၈
ဖက်(စ်) - ၀၁-၆၅၈၀၄၁

စာအမှတ်၊ မရက- ၃/န-၁၄၃၃/၂၀၁၇ (၁၉၅ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၃ ရက်

**အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်**

၁။ Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. မှ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်တင်ပြလာပါသည်။

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| က | စက်မှုဝန်ကြီးဌာန | | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |
| ခ | အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |

၂။ ၎င်းပြင်ဆင်ချက်ကို အထက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

checking

ကန့်သတ်

Inv(2)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊မရက- ၃/န- ၁၄၃၃/၂၀၁၆ ( )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ အနွေးထည်၊ဂျာကင်များချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံသား Mr. Lan, Xiaoyong မှ ၉၄.၉၃ %၊ Mr. Dai, Shisheng မှ ၀.၀၆ % နှင့် မြန်မာနိုင်ငံသား U Pavan မှ ၅.၀၁ % အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)၊စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၁.၀၀၁ ဧက (၄,၀၅၀.၉၁ စတုရန်းမီတာ) အား ငှားရမ်း၍ အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင်အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှစိစစ်၍ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်းများနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၁၄.၁၂.၂၀၁၆

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

THE REPUBLIC OF THE UNION OF MYANMAR
MYANMAR INVESTMENT COMMISSION
PROPOSAL ASSESSMENT TEAM
NO.1, THITSAR ROAD, YANKIN TOWNSHIP, YANGON

☎ -01-658128
- 01-658141

Our ref: MIC-3/FI-1433/2016(      )
Date :    December 2016

**Tian Cheng Pen Jiao Mian (Myanmar) Co., Ltd.**
**Plot No.34, Myay Taing Block No.(Part-4),**
**Industrial Zone,Hlaing Thar Yar Township,**
**Yangon Region.**

Subject: **Reply on Acceptance of Investment Proposal**

Reference: Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. dated(14-12-2016)

Regarding to the captioned subject, your investment proposal application submitted on (14-12-2016) is accepted by Proposal Assessment Team, at its meeting (47/2016) held on (19-12-2016).

In addition, necessary information and facts to be corrected and added on your proposal will be continuously informed as per decision of Proposal Assessment Team.

Yours sincerely,

24/12/16

for Team Leader
(Soe Myint Aung, Director)

cc: Company Administration Division (Foreign Company)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

Myanmar Investment Commission

တယ်လီဖုန်း-၀၁-၆၅၈၁၂၈
ဖက်(စ်)- ၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက-၃/ န- ၁၄၃၃/၂၀၁၆(      )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ အခွေးထည်၊ ဂျာကင်များချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Tian Cheng Pen Jiao Mian (Myanmar)Co., Ltd.၏ (၁၄-၁၂-၂၀၁၆) ရက်စွဲပါစာ

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tian Cheng Pen Jiao Mian (Myanmar) Co., Ltd. တည်ထောင်ကာ အနွေးထည်၊ဂျာကင်များချုပ်လုပ်ရာတွင် အသုံးပြုသည့် Synthetic Resin များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်ကို ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ၎င်းအဆိုပြုလွှာအပေါ် ဖြည့်စွက်ပြင်ဆင်ရမည့် အချက်များကို ဆက်လက်အကြောင်းကြားမည်ဖြစ်ကြောင်း နှင့် အဆိုပြုလွှာကို လက်ခံကြောင်း အကြောင်းပြန်ကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စိုးမြင့်အောင်၊ ညွှန်ကြားရေးမှူး)

**Tian Cheng Pen Jiao Mian (Myanmar) Co., Ltd.**
**မြေကွက်အမှတ်-၃၄၊မြေတိုင်းရပ်ကွက်အမှတ်-(အပိုင်း-၄)၊**
**စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး**
မိတ္တူကို
နိုင်ငံခြားကုမ္ပဏီဌာနခွဲ
ရုံးလက်ခံ/ မျှောစာတွဲ

# PROPOSAL OF THE PROMOTER TO MAKE

# FOREIGN INVESTMENT IN

# REPUBLIC OF THE UNION OF MYANMAR

**SUBMITTED BY**

**TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD**

**( Manufacturing and Sale of Synthetic resin For Clothings Such as Jacket and Warm Coat )**

# TIAN CHENG PEN JIAO MIAN (MYANMAR) CO., LTD

Plot No.(34), Mingyi Mahar Min Khaung Road, Myay Taing Block No.(Part-4), Industial Zone (4), Hlaing Thar Yar Township, Yangon Region, Myanmar.

To

The Chairman
Myanmar Investment Commission
Republic of the Union of Myanmar
Yangon Region

Date : : , December ' 2016.

Subject : : **Submission of the proposal to Myanmar Investment Commission**

We have a great pleasure to inform you that **TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD** will be incorporated under the Republic of the Union of Myanmar Foreign Investment Law in accordance with the Myanmar Companies Act. We would like to apply MIC Permit for **TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD** which will be rented with building in Plot No.(34), Mingyi Mahar Min Khaung Road, Myay Taing Block No.(Part-4), Industial Zone (4), Hlaing Thar Yar Township, Yangon Region, Republic of the Union of Myanmar for Manufacturing and Sale of Synthetic Resin For Clothing such as Jacket and Warm Coat.

Therefore, we hereby submit (22) Copies of proposals to Myanmar Investment Commission for Favour of issue of Permit.

Yours Faithfully,

蓝孝勇

**MR. LAN, XIAOYONG**
**Promoter**
**TIAN CHENG PEN JIAO MIAN**
**(MYANMAR) COMPANY LIMITED**

**TIAN CHENG PEN JIAO MIAN (MYANMAR) CO., LTD**

Plot No.(34), Mingyi Mahar Min Khaung Road, Myay Taing Block No.(Part-4), Industial Zone (4),
Hlaing Thar Yar Township, Yangon Region, Myanmar.

To

The Chairman
Myanmar Investment Commission
Republic of the Union of Myanmar
Yangon Region

Date : : , December ' 2016.

Subject : : **Application for issue of Permit for Foreign Investment in the Republic of the Union of Myanmar.**

Dear Sir,

1. We have the pleasure and honor to inform you that a Foreign Company of 100% Foreign Investment by the name of **TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD** desires to obtain an "Investment Permit" under Republic of the Union of Myanmar Companies Act and to have share holdings of 94.934% contributed by **MR. LAN, XIAOYONG** and 0.063% contributed by **MR. DAI, SHISHENG** and 5.003% contributed by **U PAVAN.**

2. In accordance with Republic of the Union of Myanmar Foreign Investment Law, **TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD** is now applying for issue of Permit under Section 13(b) of Republic of the Union of Myanmar Foreign Investment Law.

3. At the same time, in accordance with the following basic principles of Foreign Investment Law, **TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD** put up this application for tax exemption.
   - (a) Promotion an expansion of value added exports.
   - (b) Acquisition of High Technology.
   - (c) Opening up of more employment opportunities.
   - (d) Regional Development.

4. The **TIAN CHENG PEN JIAO MIAN (MYANMAR) CO.,LTD** in its Memorandum of Association contains and objective the establish of Manufacturing and Sale of Synthetic Resin For Clothing such as Jacket and Warm Coat factory and with the objectives in view, we hereby present the proposal to operate the business of Manufacturing and Sale of Synthetic Resin For Clothing such as Jacket and Warm Coat factory in Plot No.(34), Mingyi Mahar Min Khaung Road, Myay Taing Block No.(Part-4), Industial Zone (4), Hlaing Thar Yar Township, Yangon Region, Republic of the Union of Myanmar, which is leased from **U Maung Win @ Yo Eit Phe.** We have made a detailed account of our on realistic and factual forecasts and studies.

5. For the purpose of above application, we submit herewith the Proposal of the Promoter to make Foreign Investment in the Republic of the Union of Myanmar, together with relevant supporting documents which are required for issue of Permit from the Myanmar Investment Commission (MIC) for the MIC's consideration.
   (a) Proposal of the promoter to make Foreign Investment in Republic of the Union of Myanmar.
   (b) Lease Agreement (draft).
   (c) Investment Proposal & Attachments.
   (d) References for Business and Financial Standing.
   (e) Memorandum of Association and Articles of Association (draft).

6. We trust the above would meet your requirements and we hope that the Myanmar Investment Commission will give favorable consideration to our application as well as grant us the Investment Permit. We shall be most grateful if the Myanmar Investment Commission could kindly grant us the following exemptions or relief from taxation in allowed as per Section 27 of Republic of the Union of Myanmar Foreign Investment Law.
   (a) Exemption from income tax for a period extending to 5 consecutive years, inclusive of the year of commencement of production of goods services.
   (b) Exemption or relief from income tax on profit of the business if they are maintained in a reserve fund and re-investment therein within one year after the reserve is made.

(c) Right to accelerate depreciation in respect of machinery, equipment, building or other Capital Assets used in the business, at the rate fixed by the Commission to the extend of the original value for the purpose of income tax assessment.

(d) Relief from income tax up to 50 percent on the profit accrued from the said export.

(e) Right to pay income tax on the income of the foreigners at the rates applicable to the citizens residing within the union.

(f ) Right to deduct expenses from the assessable income, such expenses incurred in respect of research and development relating to the business which are actually required and are carried out within the Union.

(g) Right to carry forward and set-off up to 3 consecutive years from the year the loss is sustained in respect of such loss sustained within 2 years immediately following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business.

(h). Exemption or relief from customs duty or other internal taxes or both on machinery, equipment, instrument, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business.

(i) Exemption or relief from customs duty or other internal tax or both on raw materials imported for the first (3) years after the completion of construction of business.

(j) If the volume of investment is increased with the approval of the Commission and the original investment business is expanded during the permitted period, exemption or relief from custom duty or other internal taxes or both on machinery, equipments, instruments, machinery components, spare parts and materials used in the business which are imported as they are actually required for use in the business expanded as such.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# တိုင် ချန်(စ်) ပန်စ် ဂျော့(လ်) မိုင်း ( မြန်မာ ) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

◆◆◆◆◆◆◆

THE MYANMAR COMPANIES ACT
PRIVATE COMPANY LIMITED BY SHARES

# Memorandum of Association

*AND*

# Articles of Association

*OF*

# TIAN CHENG PEN JIAO MIAN ( MYANMAR ) COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# တိုင် ချန်(စ်) ပန်စ် ဂျော့(လ်) မိုင်း ( မြန်မာ ) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

◆◆◆◆◆◆◆◆

၁။ **ကုမ္ပဏီ၏** အမည်သည် " **တိုင် ချန်(စ်) ပန်စ် ဂျော့(လ်) မိုင်း ( မြန်မာ ) ကုမ္ပဏီ လီမိတက်** " ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ **ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါ** အတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ - ၁၀,၀၀၀,၀၀၀ ( အမေရိကန်ဒေါ်လာ တစ်ဆယ်သန်းတိတိ ) ဖြစ်၍ အမေရိကန်ဒေါ်လာ - ၁၀၀ ( အမေရိကန်ဒေါ်လာတစ်ရာတိတိ )တန် အစုရှယ်ယာပေါင်း ( ၁၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ -

**ကုမ္ပဏီသည် အထည်ချုပ်လုပ်ငန်းဖြစ်သော အနွေးထည်၊ ဂျာကင်များ ချုပ်လုပ်ရာတွင် အသုံးပြုသည့် ကျောက်ဂွမ်းထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချသည့်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။**

၇။ ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေးအဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

**ခြွင်းချက်** ။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁- | **MR. LAN, XIAOYONG**<br>Liao Ning Sheng, Da Lian Shi,<br>Zhong Shan Qu, Zhong Nan Lu,<br>Zhong Jing Yuan, No Four 1-4-1,<br>P.R.C China.<br>( ကုန်သည် ) | **Chinese**<br>P.P.No.<br>E 49276585 | ၁၄၉၉ | 蓝孝勇 |
| ၂- | **MR. DAI, SHISHENG**<br>Liao Ning Sheng, Da Lian Shi,<br>Pu Lun Dian Shi, Liuo Shun She Qu,<br>No.1-347, P.R.C China.<br>( ကုန်သည် ) | **Chinese**<br>P.P.No.<br>E 86387068 | ၁ | |
| ၃- | **U PAVAN**<br>အမှတ်-( ၃/၁၅၅-ခ )၊ သီရိမင်္ဂလာလမ်း၊<br>(၃)-ရပ်ကွက်၊ ကျောက်မဲမြို့နယ်၊<br>ရှမ်းပြည်နယ်မြောက်ပိုင်း။<br>( ကုန်သည် ) | **မြန်မာ**<br>၁၃/ကမန<br>(မြ) ၀၀၀၇၈၀ | ၃၉ | Pavan |

ရန်ကုန် ။ ။ နေ့စွဲ ၊ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ၊ ( )ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

ဦးအ[illegible]နှစ် ( ဥပဒေဘွဲ့ )
တရားလွှတ်တော်ရှေ့နေ
၁၇၆(ပထမထပ်)၊ ပိုလ်တာထောင်ဘုရားလမ်း၊မိဘရိပ်မွန်ကွန်ဒို၊
ရန်ကုန်။ဖုန်း -(၀၁) ၂၉၆၁၃၂/၃၉၇၂၃၄/၃၉၇၂၃၅

**မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ**

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# တိုင် ချန်(စ်) ပန်စ် ဂျော့(လ်) မိုင်း ( မြန်မာ ) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖

၁။ ဤ သင်းဖွဲ့စည်းမျဉ်း နှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ'က'ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများ သည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက်စေရမည်။

(က) ဤ ကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများ မှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤ ကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခု အတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ - ၁၀,၀၀၀,၀၀၀ ( အမေရိကန်ဒေါ်လာ တစ်ဆယ်သန်းတိတိ ) ဖြစ်၍ အမေရိကန်ဒေါ်လာ - ၁၀၀ ( အမေရိကန်ဒေါ်လာတစ်ရာတိတိ )တန် အစုရှယ်ယာပေါင်း ( ၁၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက် များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

**ဒါရိုက်တာများ**

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦးထက်မနည်း၊ ( ၁၅ )ဦးထက် မများစေရ။

**ပထမဒါရိုက်တာများသည် -**

(၁) **MR. LAN, XIAOYONG**

(၂) **MR. DAI, SHISHENG** **နှင့်**

(၃) **U PAVAN** တို့ ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

**ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ**

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည် ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲ တမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်း ကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့ အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နစ်ဦးနစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**အထွေထွေအစည်းအဝေးကြီးများ**

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

**အမြတ်ဝေစုများ**

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

**ရုံးဝန်ထမ်းများ**

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

**ငွေစာရင်းများ**

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

**စာရင်းစစ်**

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

◆ ◆ ◆ ◆ ◆ ◆ ◆

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁- | **MR. LAN, XIAOYONG**<br>Liao Ning Sheng, Da Lian Shi,<br>Zhong Shan Qu, Zhong Nan Lu,<br>Zhong Jing Yuan, No Four 1-4-1,<br>P.R.C China.<br>( ကုန်သည် ) | **Chinese**<br>P.P.No.<br>E 49276585 | ၁၄၉၉ | (signature) |
| ၂- | **MR. DAI, SHISHENG**<br>Liao Ning Sheng, Da Lian Shi,<br>Pu Lun Dian Shi, Liuo Shun She Qu,<br>No.1-347, P.R.C China.<br>( ကုန်သည် ) | **Chinese**<br>P.P.No.<br>E 86387068 | ၁ | (signature) |
| ၃- | **U PAVAN**<br>အမှတ်-( ၃/၁၅၅-ခ )၊ သီရိမင်္ဂလာလမ်း၊<br>(၃)-ရပ်ကွက်၊ ကျောက်မဲမြို့နယ်၊<br>ရှမ်းပြည်နယ်မြောက်ပိုင်း။<br>( ကုန်သည် ) | **မြန်မာ**<br>၁၃/ကမန<br>(ပြု) ၀၀၀၇၈၀ | ၇၉ | (signature) |

ရန်ကုန် ။ ။ နေ့စွဲ ၊ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ၊ ( )ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

ဦးအိနုစ် ( ဥပဒေအို )
တရားလွှတ်တော်ရှေ့နေ
ဘုန်း(ဘဘမထက်)၊ဗိုလ်တထောင်ဘုရားလမ်း၊မိဘာရိပ်မွန်တွန်ဥို၊
ရန်ကုန်မြို့နယ်မ--(၁၁) ၂၈၆၁၁ ၁/၁၈၀ ၂၁၀/၁၈၀ ၂၁၈

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum of Association

*OF*

## TIAN CHENG PEN JIAO MIAN ( MYANMAR ) COMPANY LIMITED

❖❖❖❖❖❖❖

The name of the Company is " **TIAN CHENG PEN JIAO MIAN ( MYANMAR ) COMPANY LIMITED** ".

The registered office of the Company will be situated in the Union of Myanmar.

The objects for which the Company is established are as on the next page.

The liability of the members is limited.

The Authorised Capital of the Company is US$ 10,000,000 ( United States Dollar Ten Million Only ) divided into ( 100,000 ) shares of US$ 100 ( United States Dollar One Hundred Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

6. The Objective for which the company is established are :-

**The Company intends to carry manufacturing of Synthetic resin used in Jacket and Warm Coat Garments and Clothings.**

7. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:-*** *Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1- | **MR. LAN, XIAOYONG**<br>Liao Ning Sheng, Da Lian Shi,<br>Zhong Shan Qu, Zhong Nan Lu,<br>Zhong Jing Yuan, No Four 1-4-1,<br>P.R.C China.<br>**( Merchant )** | **Chinese**<br>P.P.No.<br>E 49276585 | **1499** | |
| 2- | **MR. DAI, SHISHENG**<br>Liao Ning Sheng, Da Lian Shi,<br>Pu Lun Dian Shi, Liuo Shun She Qu,<br>No.1-347, P.R.C China.<br>**( Merchant )** | **Chinese**<br>P.P.No.<br>E 86387068 | **1** | |
| 3- | **U PAVAN**<br>No.( 3/155-Kha ), Thiri Mingalar Street,<br>Ward No.(3), Kyauk Me Township,<br>Northern Shan State.<br>**( Merchant )** | **Myanmar**<br>13/KaMaNa<br>(Pyu) 000780 | **79** | |

Yangon. Dated the day of **December** , 2016.

***It is hereby certified that the persons mentioned above put their signatures in my presence.***

U YE NOOS ( LL.B )
Supreme Court Advocate
176(1st Floor),Botataung Pagoda Road,Meba Yeik Mon Condo,
Yangon. Ph : (01) 296132, 397234, 397235

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles of Association

*OF*

# TIAN CHENG PEN JIAO MIAN ( MYANMAR ) COMPANY LIMITED

❖❖❖❖❖❖❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

**PRIVATE COMPANY**

2. The Company is to be a Private Limited Company and accordingly following provisions shall have effect : -
   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*
   (b) *Any invitation to the public to subscribe for any share or debenture stock of the Company is hereby prohibited.*

**CAPITAL AND SHARE**

3. The Authorised Capital of the Company is US$ 10,000,000 ( United States Dollar Ten Million Only ) divided into ( 100,000 ) shares of US$ 100 ( United States Dollar One Hundred Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by installments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( **2** ) and not more than ( **15** ).

**The First Directors shall be : -**

**(1) MR. LAN, XIAOYONG**

**(2) MR. DAI, SHISHENG** and

**(3) U PAVAN.**

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the power delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section ( 85 ) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15 A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. **Subject to the provisions of Section 86 (C). of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.**

## WINDING-UP

24. **Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.**

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of these Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1- | **MR. LAN, XIAOYONG**<br>Liao Ning Sheng, Da Lian Shi,<br>Zhong Shan Qu, Zhong Nan Lu,<br>Zhong Jing Yuan, No Four 1-4-1,<br>P.R.C China.<br>**( Merchant )** | **Chinese**<br>P.P.No.<br>E 49276585 | **1499** | 蓝孝勇 |
| 2- | **MR. DAI, SHISHENG**<br>Liao Ning Sheng, Da Lian Shi,<br>Pu Lun Dian Shi, Liuo Shun She Qu,<br>No.1-347, P.R.C China.<br>**( Merchant )** | **Chinese**<br>P.P.No.<br>E 86387068 | **1** | |
| 3- | **U PAVAN**<br>No.( 3/155-Kha ), Thiri Mingalar Street,<br>Ward No.(3), Kyauk Me Township,<br>Northern Shan State.<br>**( Merchant )** | **Myanmar**<br>13/KaMaNa<br>(Pyu) 000780 | **79** | Pavan |

Yangon. Dated the day of **December** , 2016.

***It is hereby certified that the persons mentioned above put their signatures in my presence.***

U YE NOOS ( LL.B )
Supreme Court Advocate
176(1st Floor),Botataung Pagoda Road,Meba Yeik Mon Condo,
Yangon. Ph : (01) 296132, 397234, 397235